





# မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်
# ခွင့်ပြုမိန့်

ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၉၆ /၂၀၁၄ ။ ၂၀၁၄ ခုနှစ်၊ အောက်တိုဘာ လ ၃၁ ရက်

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၁၂(ခ) အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်-

(က) **ရင်းနှီးမြှုပ်နှံသူ၏အမည်** ဦးဝင်းအောင်

(ခ) **အဘ အမည်** ဦးလှဝင်း

(ဂ) **နိုင်ငံသား/ အမျိုးသားမှတ်ပုံတင်အမှတ်** ၁၂/ပဇတ(နိုင်)၀၂၈၇၃၂

(ဃ) **နေရပ်လိပ်စာ** အမှတ်(၇/က)၊ ကန်ရိပ်သာလမ်း၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး။

(င) **ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း** Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)

(စ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား** နိုင်ငံတကာအဆင့်မီ ဟိုတယ်ဝန်ဆောင်မှု လုပ်ငန်း

(ဆ) **ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့်အရပ်ဒေသ(များ)** ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တော ရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင်၊ အင်းလေးကန် တောရိုင်း တိရစ္ဆာန် ဘေးမဲ့ တော၊ ရှမ်းပြည်နယ်(တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ သလဲဦး ကျေးရွာ အုပ်စု ၊ အင်ကြင်းကုန်းရွာ၊ ကွင်းအမှတ်(၄၄)၊ ဦးပိုင်အမှတ် ၃၅/၁၊ N7 ၊ N2၊ N3၊ ၃၇၊ ၃၈၊ ၃၉၊ ၃၉/၆၇၊ ၃၉/၆၈ တို့ရှိ စုစုပေါင်း မြေ (၁၇.၄၈) ဧက

(ဇ) **မတည်ငွေရင်းပမာဏ(ကျပ်)** ၁၄၄၀၀.၀၀ သန်း (အမေရိကန်ဒေါ်လာ ၉.၀၉ သန်း အပါအဝင် စုစုပေါင်းကျပ် တစ်သောင်းလေးထောင့်လေးရာသန်း တိတိ)

ဥက္ကဋ္ဌ

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်




**ကန့်သတ်**

**မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်**
**အမိန့်ကြော်ငြာစာအမှတ်၊ ၅၇ /၂၀၁၄ (မနသ)**
**၂၀၁၄ ခုနှစ် အောက်တိုဘာ လ ၁၃ ရက်**

၁။ Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနပိုင် ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ အင်းလေးကန် တောရိုင်းတိရစ္ဆာန် ဘေးမဲ့တော၊ ရှမ်းပြည်နယ် (တောင်ပိုင်း)၊ တောင်ကြီးခရိုင်၊ ညောင်ရွှေမြို့နယ်၊ သလဲဦးကျေးရွာအုပ်စု ၊ အင်ကြင်းကုန်းရွာ၊ ကွင်းအမှတ်(၄၄)၊ ဦးပိုင်အမှတ် ၃၅/၁၊ N7 ၊ N2၊ N3၊ ၃၇၊ ၃၈၊ ၃၉၊ ၃၉/၆၇၊ ၃၉/၆၈ တို့ရှိ စုစုပေါင်း မြေ (၁၇.၄၈)ဧက တွင် နိုင်ငံတကာအဆင့်မီ ဟိုတယ် ဝန်ဆောင်မှု လုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက် ခွင့်ပြုပါရန် အဆိုပြု တင်ပြချက်အား ၂၀၁၄ ခုနှစ်၊ စက်တင်ဘာလ ၁၉ ရက်နေ့တွင် ကျင်းပသော ကော်မရှင်၏ (၂၂/၂၀၁၄) ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ရာ “ ခွင့်ပြုမိန့် ထုတ်ပေးရန် ” ဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါ ဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၇)၊ ပုဒ်မ ၁၂ (ခ) အရ အပ်နှင်းထားသော လုပ်ပိုင်ခွင့်များကို ကျင့်သုံးလျက် Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)အား နိုင်ငံတကာ အဆင့်မီ ဟိုတယ်ဝန်ဆောင်မှုလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်နိုင်ရန်အတွက် ခွင့်ပြုမိန့် အမှတ်၊ မနသ- ၉၉၆ / ၂၀၁၄ ကို ထုတ်ပေးလိုက်သည်။

၂။ Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်) အနေဖြင့် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ အခန်း (၁၁) အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် နှင့် အောက်ဖော်ပြပါ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုနိုင်ရန် ဤအမိန့်ကြော်ငြာစာကို ထုတ်ပြန်လိုက်သည် -

(က) ဥပဒေပုဒ်မ ၂၀(က)အရ ဝန်ဆောင်မှု လုပ်ငန်း စီးပွားဖြစ် စတင်သောနှစ် အပါအဝင် တစ်ဆက်တည်း(၅)နှစ်အထိ ဝင်ငွေခွန် ကင်းလွတ်ခွင့်ပြုသည်။

(ခ) ဥပဒေပုဒ်မ ၂၀(ဂ)အရ လုပ်ငန်းမှ ရရှိသည့် အမြတ်ငွေကို သီးသန့် ရန်ပုံငွေထား၍ တစ်နှစ်အတွင်း လုပ်ငန်း၌ ပြန်လည် ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ် ဝင်ငွေခွန် ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့် ခံစားနိုင်ရန်အတွက် ဝင်ငွေခွန် ကင်းလွတ်ခွင့် ကာလ ကုန်ဆုံးပြီး၍ အမှန်တကယ် ပြန်လည် ရင်းနှီးမြှုပ်နှံသည့်အခါ လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

**ကန့်သတ်**

(ဂ) ဥပဒေပုဒ်မ ၂၀(စ)အရ ဝင်ငွေခွန် ကင်းလွတ်ခွင့် ခံစားပြီး တစ်ဆက်တည်း နှစ်နှစ်အတွင်း အမှန်တကယ်ပေါ်ပေါက်သည့် အရှုံးငွေကို ယင်းသို့ အရှုံးပေါ်ပေါက်သည့်နှစ်မှစ၍ တစ်ဆက်တည်း သုံးနှစ်ကာလအထိ သယ်ယူခုနှိမ်ခွင့်ကို လုပ်ငန်း အမှန်တကယ် အကောင်အထည်ဖော်မှု အခြေအနေကို ဖော်ပြလျက် ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ ၂၀(ဆ) အရ လုပ်ငန်း စတင်တည်ဆောက်မှု ကာလအတွင်း အမှန်တကယ်အသုံးပြုရန် လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(င) ဥပဒေပုဒ်မ ၂၀(ဇ)အရ ဝင်ငွေခွန် စည်းကြပ်ရန်အလို့ငှာ ယာဥ်ယန္တရား၊ စက်ပစ္စည်း စက်ကိရိယာ၊ အဆောက်အအုံ သို့မဟုတ် လုပ်ငန်းသုံး အခြား မတည်ပစ္စည်းများအပေါ်တွင် နိုင်ငံတော်က သတ်မှတ်ထားသည့် ပစ္စည်းတန်ဖိုး လျော့တွက်နှုန်းများအတိုင်း တွက်ချက်ပြီး ပစ္စည်းတန်ဖိုး လျော့တွက်ငွေကို အမြတ်ငွေထဲမှ နုတ်ပယ်ခွင့်နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့ နှုန်းထားများကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

(စ) ဥပဒေပုဒ်မ ၂၀(ည)အရ ရင်းနှီးမြှုပ်နှံမှု ပမာဏ တိုးမြှင့်ပြီး မူလရင်းနှီးမြှုပ်နှံသည့်လုပ်ငန်းကို ခွင့်ပြုထားသည့် သက်တမ်း ကာလအတွင်း အမှန်တကယ် အသုံးပြုရန်လိုအပ်၍ ပြည်ပမှ တင်သွင်းသော ယာဥ်ယန္တရားများ၊ စက်ပစ္စည်းများ၊ စက်ကိရိယာများ၊ အသုံးအဆောင် တန်ဆာပလာများ၊ စက်ကိရိယာ အစိတ်အပိုင်းများ၊ စက်အရန်ပစ္စည်းများ၊ လုပ်ငန်းသုံး ပစ္စည်းများအပေါ်တွင် အကောက်ခွန်ဖြစ်စေ၊ အခြားပြည်တွင်း အခွန်အကောက်များဖြစ်စေ ကင်းလွတ်ခွင့် သို့မဟုတ် သက်သာခွင့်တို့ကို ဤကော်မရှင်သို့ တင်ပြလျှောက်ထားရမည်။

၃။ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေပုဒ်မ ၂၀(ဆ)အရ ပြည်ပမှ ယာဥ်ယန္တရား၊ စက်ပစ္စည်း၊ စက်ကိရိယာ၊ အသုံးအဆောင် တန်ဆာပလာ၊ စက်ကိရိယာ အစိတ်အပိုင်း၊ စက်အရန်ပစ္စည်း၊ လုပ်ငန်းသုံးပစ္စည်းများ တင်သွင်းရာတွင် တင်သွင်းမည့် ပစ္စည်းအမျိုးအစား၊ အရည်အသွေး၊ စံချိန်စံညွှန်းများ၊ ဈေးနှုန်းများ သင့်မြတ်မှု စသည်တို့နှင့် စပ်လျဉ်း၍ နိုင်ငံတကာ အသိအမှတ် ပြုထားသည့် စစ်ဆေးရေး ကိုယ်စားလှယ် (Inspection Agency)၏ စစ်ဆေးမှုဖြင့် ဆောင်ရွက်ရမည်။

၄။ Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှုလုပ်ငန်း ဆောင်ရွက်ရာတွင် မူလအဆိုပြုလွှာ၌ ဖော်ပြထားသည့် **ဝန်ဆောင်မှု ရည်မှန်းချက်များ** ကို **အနိမ့်ဆုံး ရည်မှန်းချက်များ** အဖြစ် ထားရှိဆောင်ရွက် အကောင်အထည်ဖော်ရမည်။

၅။ Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် ဤအဆိုပြုလုပ်ငန်း၏ စာရင်းများကို သီးခြား ပြုစုထားရှိရမည်။

၆။ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနနှင့် Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)တို့သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ အတည်ပြုပြီး ဖြစ်သော မြေငှားစာချုပ်ပါ စည်းမျဉ်းစည်းကမ်းများအတိုင်း လိုက်နာဆောင်ရွက်ရမည်။

၇။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် မြေငှားရမ်းခြင်း သက်တမ်းကာလမှာ မြေငှားစာချုပ် လက်မှတ်ရေးထိုးသည့်နေ့မှ စတင်၍ ကနဦး နှစ် (၅၀)နှင့် သက်တမ်း တိုးမြှင့်မည့် ကာလမှာ (၁၀)နှစ် သက်တမ်း(၂)ကြိမ် ဖြစ်သည်။ ထိုသို့ စာချုပ်သက်တမ်းကာလ တိုးမြှင့်ခြင်းအား ကော်မရှင်သို့ တင်ပြ၍ ခွင့်ပြုချက် ရရှိပြီးမှသာ အတည်ဖြစ်သည်။

၈။ Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာနသို့ Land Use Premium ကြေးအဖြစ် မြေ တစ် ဧကလျှင် ကျပ်၅၀၀၀၀ (ကျပ်ငါးသောင်း) နှုန်းဖြင့် မြေ (၁၇.၄၈) ဧကအတွက် စုစုပေါင်း ကျပ် ၈၇၄၀၀၀ ကို အောက်ပါအတိုင်း (၃)ကြိမ်ခွဲ၍ နေပြည်တော် မြန်မာ့စီးပွားရေးဘဏ်တွင် သစ်တောဦးစီးဌာနအမည်ဖြင့် ဖွင့်လှစ်ထားသော ငွေစာရင်းအမှတ် MD -010613 သို့ ပေးသွင်းရမည် -

(က) ပထမအကြိမ် စုစုပေါင်း ပရီမီယံ၏ ၃၀ % ဖြစ်သော ကျပ် ၂၆၂၂၀၀ ကို စာချုပ်ချုပ်ဆိုပြီး (၃၀)ရက်အတွင်း

(ခ) ဒုတိယအကြိမ် စုစုပေါင်း ပရီမီယံ၏ ၃၀ % ဖြစ်သော ကျပ် ၂၆၂၂၀၀ ကို စာချုပ်ချုပ်ဆိုပြီး (၆)လ

(ဂ) တတိယအကြိမ် စုစုပေါင်း ပရီမီယံ၏ ၄၀ % ဖြစ်သော ကျပ် ၃၄၉၆၀၀ ကို စာချုပ်ချုပ်ဆိုပြီး (၂၄)လ

၉။ Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် နှစ်စဉ် မြေငှားရမ်းခအဖြစ် တစ် ဧကလျှင် ကျပ် ၂၀၀၀၀၀ နှုန်းဖြင့် စုစုပေါင်းဧရိယာ (၁၇.၄၈) ဧကအတွက် ကျပ် ၃၄၉၆၀၀၀(ကျပ် သုံးဆယ့်လေးသိန်းကိုးသောင်းခြောက်ထောင်တိတိ)ကို စာချုပ်ချုပ်ဆိုပြီး ရက်ပေါင်း (၆၀) အတွင်း ကြိုတင်၍ ပေးသွင်းရမည်။

၁၀။ မြေငှားရမ်းခကို (၅)နှစ်လျှင် တစ်ကြိမ် ပြန်လည်ပြင်ဆင်သတ်မှတ်ရန်နှင့် စာချုပ်ပြန်လည်ချုပ်ဆိုသည့်အခါ ငှားရမ်းခနှုန်းထားကို ကာလဒေသပေါက်စျေးနှင့် နှစ်ဖက်ညှိနှိုင်း၍ စာချုပ်ပါ ငှားရမ်းခ၏ ၁၀ % ထက် မပိုသော နှုန်းထားဖြင့် ပြင်ဆင်သတ်မှတ်ရမည်။

၁၁။ Amata International Co., Ltd.(အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် နိုင်ငံတကာအဆင့်မီ ဟိုတယ် စီမံကိန်း သဘောတူစာချုပ်ကို လက်မှတ်ရေးထိုးသည့်နေ့မှစတင်၍ မြေပြုပြင်ကာလ(၆)လနှင့် ဟိုတယ်တည်ဆောက်ရေးကာလ(၁၈)လ ၊ စုစုပေါင်း(၂၄)လအတွင်း ပြီးစီးအောင် တည်ဆောက် ဖွင့်လှစ်ရမည်။

၁၂။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်နိုင်ရန်အတွက် ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန၊ သစ်တောဦးစီးဌာန နှင့် Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်) တို့ ချုပ်ဆိုမည့် နှစ်ရှည် မြေငှားရမ်းခြင်း စာချုပ်ကို လက်မှတ်ရေးထိုး၍ ထိုက်သင့်သော တံဆိပ်ခေါင်းခွန်များ ပေးဆောင်ပြီးသည့်အခါ ယင်း သဘောတူ စာချုပ်မိတ္တူ (၅)စောင်စီကို ဤကော်မရှင်သို့ **မပျက်မကွက်** ပေးပို့တင်ပြရမည်။

၁၃။ Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် ဟိုတယ် အဆောက်အအုံ ပြီးစီးသည့်အခါ ဟိုတယ်လုပ်ငန်း လိုင်စင်ရရှိရေးအတွက် ဟိုတယ်နှင့် ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာနသို့ လျှောက်ထားရမည်။

၁၄။ Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် နှစ်ရှည် မြေငှားရမ်းခြင်း သဘောတူစာချုပ် သက်တမ်းကာလအတွင်း ထိုလုပ်ငန်းအတွက် အခြား ပုဂ္ဂိုလ်တစ်ဦးဦးအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ အစုရှယ်ယာလွှဲပြောင်းခြင်းနှင့် လုပ်ငန်း လွှဲပြောင်းခြင်းတို့ကို ကော်မရှင်၏ ခွင့်ပြုချက်ဖြင့် ဆောင်ရွက်ရမည်။

၁၅။ Amata International Co., Ltd.(အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် လုပ်ငန်းဆောင်ရွက်မှု ဘဏ်အာမခံငွေအဖြစ် တစ်နှစ် ငှားရမ်းခဖြစ်သော ကျပ် ၃၄၉၆၀၀၀ (ကျပ် သုံးဆယ့်လေးသိန်း ကိုးသောင်းခြောက်ထောင်တိတိ)အား နေပြည်တော်၊ မြန်မာ့စီးပွားရေးဘဏ် တွင် သစ်တောဦးစီးဌာနအမည်ဖြင့် ဖွင့်လှစ်ထားသော ငွေစာရင်းအမှတ် MD -010613 တွင် စာချုပ် လက်မှတ်ရေးထိုးပြီး ရက်ပေါင်း(၃၀)အတွင်း ဘဏ်အာမခံ ထားရှိပေးရမည်။

၁၆။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် မြေအသုံးပြုမှုနှင့် စပ်လျဉ်း၍ နိုင်ငံတော် အစိုးရမှ မြေယာနှင့် ပတ်သက်၍ သတ်မှတ်ပြဋ္ဌာန်းမည့် စည်းကမ်းသတ်မှတ်ချက်များကို တိကျစွာ လိုက်နာ ဆောင်ရွက်ရမည်။

၁၇။ Amata International Co., Ltd.(အမတအပြည်ပြည်ဆိုင်ရာကုမ္ပဏီလီမိတက်)သည် လုပ်ငန်းဆောင်ရွက်ရာတွင် မြို့ပြစီမံကိန်း နှင့် ကိုက်ညီစေရေးအတွက် လည်းကောင်း၊ သက်ဆိုင်ရာ

ဥပဒေများ ပြဋ္ဌာန်း ပေါ်ပေါက်လာသည့်အခါ အဆိုပါ ဥပဒေပါ ပြဋ္ဌာန်းချက်များ၊ စည်းမျဉ်း၊ စည်းကမ်းများနှင့် ကိုက်ညီစေရန်လည်းကောင်း လိုက်နာဆောင်ရွက်ရမည်။

၁၈။ Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရာတွင် အဆောက်အအုံအတွက် အမှန်တကယ် လိုအပ်သော ဆောက်လုပ်ရေး လုပ်ငန်းသုံး ပစ္စည်းများကို ပြည်ပမှ တင်သွင်းသည့်အခါ ပစ္စည်းအမျိုးအစားနှင့် အရေအတွက်ကို BQ တွင် ဖော်ပြထားသည့်အတိုင်း မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၏ သတ်မှတ်ချက်နှင့်အညီ လိုက်နာ ဆောင် ရွက်ရမည်။

၁၉။ Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်တွင်း အလုပ်သမားများ ခန့်ထားရာတွင် အလုပ်သမားဝန်ကြီးဌာန၊ အလုပ်သမား ညွှန်ကြားရေး ဦးစီးဌာနနှင့် ညှိနှိုင်း ဆောင်ရွက်ရမည်။ ထို့အပြင် အလုပ်ရှင်နှင့် အလုပ်သမား ဆက်ဆံရေး ပြေလည်စေရန် အလေးထား ဆောင်ရွက်ရမည်။ လုပ်ငန်းခွင်သာယာရေးနှင့် စာရင်းဇယားများ စနစ်တကျရှိစေရေးအတွက် အဆိုပြုချက်တွင် တင်ပြထားသည့်အတိုင်း စီစဥ်ဆောင်ရွက်ရမည်။

၂၀။ Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် ဤခွင့်ပြုမိန့်အရ ဝန်ဆောင်မှု လုပ်ငန်း ဆောင်ရွက်ရာ၌ ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထု ညစ်ညမ်းမှု၊ မီးဘေး အန္တရာယ် စသည်များ မဖြစ်ပေါ်စေရန်အတွက် လိုအပ်သည့် ပတ်ဝန်းကျင် ညစ်ညမ်းမှု ထိန်းသိမ်း ကာကွယ် ရေး အစီအမံများကို ဝန်ခံ ကတိပြုထားသည့်အတိုင်း စနစ်တကျ ထားရှိ ဆောင်ရွက်ရမည်။ ထို့ပြင် နိုင်ငံတော်မှ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးမူဝါဒ၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေး ဥပဒေ၊ အခြားသော ပတ်ဝန်းကျင် ထိန်းသိမ်းရေးဆိုင်ရာ နည်းဥပဒေများ၊ ညွှန်ကြားချက်များ၊ လုပ်ထုံးလုပ်နည်းများနှင့်အညီ လိုက်နာဆောင်ရွက်ရမည်။ ယင်းသို့ ဆောင်ရွက်ထားမှု အခြေအနေ ကို ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၁။ Amata International Co., Ltd. (အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် ကနဦး လုပ်ငန်း ဆောင်ရွက်မှု အစီရင်ခံစာကို ဤခွင့်ပြုမိန့်ရရှိပြီး (သုံး)လအတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။ ထို့ပြင် လုပ်ငန်း အကောင်အထည်ဖော်မှု အခြေအနေများကို သတ်မှတ်ထားသော ပုံစံဇယားများဖြင့် (၃)လ တစ်ကြိမ် **မပျက်မကွက်** ပုံမှန်ပေးပို့ အစီရင်ခံရမည်။ အဆိုပြုလုပ်ငန်း၏ စီးပွားဖြစ် စတင် ဆောင်ရွက်သည့် နေ့ရက်ကို စီးပွားဖြစ် စတင်ပြီး (တစ်)လ အတွင်း ဤကော်မရှင်သို့ **မပျက်မကွက်** အစီရင်ခံရမည်။

၂၂။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင် ခွင့်ပြုမိန့်တွင် ဖော်ပြထားသည့် ရင်းနှီးမြှုပ်နှံသူ၏ အဖွဲ့အစည်း၏ နေရပ်လိပ်စာ (ကုမ္ပဏီ၏ ရုံးခန်းလိပ်စာနှင့် တယ်လီဖုန်းနံပါတ်)ပြောင်းလဲမှု ရှိတိုင်း ဤကော်မရှင်သို့ **မပျက်မကွက်** တင်ပြ၍ အတည်ပြု ခွင့်ပြုချက်ကို ရယူရမည်။

၂၃။ Amata International Co., Ltd.(အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)သည် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်နှင့် သက်ဆိုင်ရာ ဝန်ကြီးဌာနများမှ ချမှတ်ထားသော တည်ဆဲ စည်းမျဉ်းစည်းကမ်း သတ်မှတ်ချက်များကို လိုက်နာ ဆောင်ရွက်ရမည်။

၂၄။ အဆိုပြုလုပ်ငန်းကို မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ရမည်ဖြစ်သဖြင့် မည်သည့် နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းကမျှ ပိုင်ဆိုင်ခြင်း သို့မဟုတ် တစ်နည်းနည်းဖြင့် စီမံခန့်ခွဲခြင်း မရှိစေရ။ မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ ထုတ်ပေးထားသော ခွင့်ပြုမိန့်၊ သက်ဆိုင်ရာ ဌာနများမှ ထုတ်ပေးထားသော လုပ်ငန်း လိုင်စင်များနှင့် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင်၏ ခွင့်ပြုမိန့်ဖြင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်ဆင့်လွှဲပြောင်းခြင်း၊ ရောင်းချခြင်း မပြုရ။ အကယ်၍ အဆိုပြုလုပ်ငန်းကို နိုင်ငံခြားသား သို့မဟုတ် နိုင်ငံခြား အဖွဲ့အစည်းက ပိုင်ဆိုင်ကြောင်း သို့မဟုတ် ခွင့်ပြုမိန့် လုပ်ငန်းလိုင်စင်များနှင့် ပြည်ပမှ တင်သွင်းသည့် ပစ္စည်းများကို တစ်နည်းနည်းဖြင့် စီမံခန့်ခွဲကြောင်း၊ ရောင်းချကြောင်း သက်ဆိုင်ရာက စစ်ဆေးတွေ့ရှိလျှင် လိုအပ်သလို အရေးယူနိုင်ရေးအတွက် သက်ဆိုင်ရာ အစိုးရဌာန၊ အဖွဲ့အစည်းနှင့် ညှိနှိုင်း ဆောင်ရွက်မည့်အပြင် လုပ်ငန်း အဆိုပြုသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှု ဥပဒေ ပုဒ်မ ၃၂(င) အရ နောင်တွင် မည်သည့် ခွင့်ပြုမိန့်မျှ ထုတ်ပေးမည် မဟုတ်သော နာမည်ပျက် စီးပွားရေးလုပ်ငန်းစာရင်း၌ ထည့်သွင်းခြင်း ခံရမည်။

၂၅။ ဤခွင့်ပြုမိန့် ထုတ်ပေးသည့် နေ့မှစ၍ (တစ်)နှစ်အတွင်း အဆိုပြုလုပ်ငန်းကို စတင် ဆောင်ရွက်ခြင်း မပြုနိုင်ပါက ဤခွင့်ပြုမိန့်သည် အလိုအလျောက် ပျက်ပြယ်ပြီး ဖြစ်သည်ဟု မှတ်ယူရမည်။

(ဇေယျာအောင်)
ဥက္ကဋ္ဌ

စာအမှတ်၊ရကက-၄ /မ-၁၄၂၈ /၂၀၁၄( ၂ ၅ ၂ )
ရက်စွဲ ၊ ၂၀၁၄ ခုနှစ် အောက်တိုဘာ လ ၁၃ ရက်

**ဖြန့်ဝေခြင်း-**

သမ္မတဦးစီးရုံး

ဒုတိယသမ္မတ(၁)ဦးစီးရုံး

ဒုတိယသမ္မတ(၂)ဦးစီးရုံး

ပြည်ထောင်စုအစိုးရအဖွဲ့ရုံး

ကန့်သတ်

၇

ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်အဖွဲ့ဝင်များ

ပြည်ထဲရေးဝန်ကြီးဌာန

ဆက်သွယ်ရေးနှင့်သတင်းအချက်အလက်နည်းပညာဝန်ကြီးဌာန

ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန

လျှပ်စစ်စွမ်းအားဝန်ကြီးဌာန

လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန

စီးပွားရေးနှင့်ကူးသန်းရောင်းဝယ်ရေးဝန်ကြီးဌာန

ဘဏ္ဍာရေးဝန်ကြီးဌာန

အမျိုးသားစီမံကိန်းနှင့် စီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု ဝန်ကြီးဌာန

ဆောက်လုပ်ရေးဝန်ကြီးဌာန

အလုပ်သမား၊အလုပ်အကိုင်နှင့်လူမှုဖူလုံရေးဝန်ကြီးဌာန

ဟိုတယ်နှင့်ခရီးသွားလာရေးလုပ်ငန်းဝန်ကြီးဌာန

ရှမ်းပြည်နယ်အစိုးရအဖွဲ့၊ တောင်ကြီးမြို့

ညွှန်ကြားရေးမှူးချုပ်၊ ဆက်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဆက်သွယ်ရေးလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့လျှပ်စစ်ဓါတ်အားလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ လူဝင်မှုကြီးကြပ်ရေးနှင့်အမျိုးသားမှတ်ပုံတင်ရေးဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန

ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန

ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း

ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့် ကုမ္ပဏီများ ညွှန်ကြားမှု ဦးစီးဌာန

ကန့်သတ်

ညွှန်ကြားရေးမှူးချုပ်၊ မြို့ရွာနှင့်အိုးအိမ်ဖွံ့ဖြိုးရေးဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ အလုပ်သမားညွှန်ကြားရေး ဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ ဟိုတယ်နှင့်ခရီးသွားညွှန်ကြားမှုဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့ဟိုတယ်နှင့်ခရီးသွားလုပ်ငန်း
ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံအင်ဂျင်နီယာအသင်း၊ ရန်ကုန်မြို့
မန်နေဂျင်းဒါရိုက်တာ၊ Amata International Co., Ltd.
(အမတ အပြည်ပြည်ဆိုင်ရာ ကုမ္ပဏီလီမိတက်)